(ဃ) ထုံးကျောက် တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၁၀၈၀၀၀၀)တန်အား မြန်မာစွမ်းပကား စက်မှု ကုမ္ပဏီလီမိတက်၏ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နှီးဒုံးတောင်ဒေသ လုပ်ကွက်မြေ ဧရိယာ (၂၁၃.၈၇) ဧကမှ ရရှိနိုင်ပါသည်၊

(င) မြေစေး တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၁၃၄၀၀၀)တန်အား မော်လမြိုင်မြို့၊ အမှတ်(၇၆)၊ အထက်လမ်းမကြီး၊ ပန်းဘဲတန်းရပ်ရှိ "စုန်ရေ" ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှလည်း ကောင်း ရရှိနိုင်ပါသည်၊

(စ) ဂဝံသံကျောက် တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၂၇၀၀၀)တန်အား ကျိုက်မရောမြို့နယ်၊ ငပြေမကျေးရွာ၊ ရွှေကျောက်အိုင်ကုမ္ပဏီလီမိတက်မှလည်းကောင်း ရရှိနိုင်ပါသည်၊

(ဆ) သဲ တစ်နှစ်လိုအပ်ချက် လျာထားချက်တန်ချိန် (၄၅၀၀၀)တန်အား မော်လမြိုင်မြို့နယ်၊ မန္တလေး ရပ်ကွက်၊ ထွန်း (သဲ+ကျောက်) ရောင်းဝယ်ရေးလုပ်ငန်းကုမ္ပဏီလီမိတက်မှလည်းကောင်း၊ ရရှိနိုင် ပါသည်၊

(ဇ) ဝေါဒန်ကျောက် တစ်နှစ်လိုအပ်ချက် လျာထားချက်တန်ချိန် (၄၅၀၀၀)တန်အား ကရင်ပြည်နယ်၊ ဘားအံမြို့၊ အမှတ် (၁/၃၈၂)၊ ဆင်းသီရိလမ်း၊ (၁)ရပ်ကွက်ရှိ လေဒီမြင့်နှင့်သားများစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှလည်းကောင်း ရရှိနိုင်ပါသည်၊

(ဈ) ကျောက်မီးသွေး တစ်နှစ်လိုအပ်ချက် လျာထားတန်ချိန် (၁၂၀၀၀၀)တန်အား ရန်ကုန်တိုင်း ဒေသကြီး၊ ရန်ကုန်မြို့၊ တောင်ဥက္ကလာပမြို့နယ်၊ အမှတ်(၇၀၆) (ခ)၊ ကုန်ဘောင် (၁၆)လမ်း၊ (၆) ရပ်ကွက်ရှိ မြည့်စုံဖြိုးကုမ္ပဏီမှလည်းကောင်း ရရှိနိုင်ပါသည်၊

၂။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည့် Myanmar-Korea Cement Group Co.,Ltd.၏ တစ်နေ့လျှင်တန် ၃၀၀၀ ကျ ဘိလပ်မြေစက်ရုံအတွက် လုံလောက်သော ထုံးကျောက်သိုက် တန်ချိန်ပမာဏရှိပါကြောင်းနှင့် လိုအပ်သော အခြားကုန်ကြမ်းများအား ပြည်တွင်းကုမ္ပဏီများထံမှ စာချုပ် ချုပ်ဆို၍ ဝယ်ယူသုံးစွဲနိုင်ပါကြောင်းဖြင့်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဌေးအောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊အမှတ်(၁)သတ္တုတွင်းလုပ်ငန်း

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၄၉၄)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃ / န-၁၄၀၉ / ၂၀၁၆ (၁၅၆၇)

၁။ Myanmar-Korea Cement Group Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ကျိုက်မရောမြို့နယ်၊ ကလိုင်းကနိုင်ကျေးရွာအုပ်စု၊ ကလိုင်းကနိုင်ကွင်း၊ ကွင်းအမှတ်(၅၈၁-က)၊ ကွင်းအမှတ်(၅၇၈)၊ ဘီလိုကွင်း၊ နိုတုံကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၈၀)၊ ကတုံကြပ်ကွင်း၊ ကွင်းအမှတ်(၅၈၀-က)၊ ကျောက်တောင်ကွင်းတို့တွင် အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန်(၃၀၀၀)ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန်(၃၀၀၀)ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ငွေအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားကို မြန်မာ့လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းမှ သွယ်တန်းဆောင်ရွက်မည့်စက်ရုံဖြစ်ပြီး ကိုယ်ပိုင်လျှပ်စစ်ထုတ်လုပ်သုံးစွဲမည့် အစီအမံ မပါရှိပါ။

(စ) နီးဒုံးတောင်ထုံးကျောက်သိုက် ပမာဏ (၁၁၄)သန်း(မက်)တန်၊ (သ-၂)အဆင့်ရှိ ထုံးကျောက်ကို သုံးစွဲမည် ဖြစ်ပါသည်။

(ဆ) Annex H 1-2 တွင် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ကြမ်းထုတ်လုပ်မှုအရ ညီညွတ်မှုရှိပြီး Natural Gas မရရှိပါက Coal အား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

(ဇ) ဘိလပ်မြေထုတ်လုပ်ရာတွင် တပ်ဆင်မည့်ပစ္စည်းများ ပြည့်စုံစွာ ဖော်ပြထားသော်လည်း အဓိကအစိတ်အပိုင်းများဖြစ်သည့် Kiln, Clinker Cooler တို့၏ Dimension နှင့် Capacity များ ပြည့်စုံစွာ ဖော်ပြရန် လိုအပ်ပါသည်။

(ဈ) Annex I တွင် ဖော်ပြထားချက်အရ ထုတ်လုပ်မှုနှင့် လူအင်အား ဆီလျော်မှု ရှိပါသည်။

(ည) လုပ်ငန်းအတွက် သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှုမဖြစ်ပေါ်စေရေး၊ ရေထု၊ လေထု ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး၊ EMP ရေးဆွဲပြီး EIA, SIA, HIA နှင့် CSR တို့ကို စနစ်တကျ ဆောင်ရွက်သင့်ပါသည်။

(ဋ) ထုံးကျောက်သိုက်မှ ထုံးကျောက်ထုတ်လုပ်ရာတွင် Bio-Diversity ကို မထိခိုက်စေရေး အထူးပြုဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myanmar-Korea Cement Group Co.,Ltd. မှ အခြောက်ခံ စနစ်ဖြင့် တစ်နေ့လျှင် တန်(၃၀၀၀)ကျ လီလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

7-220
10.2.17

တအမှတ်၊ မအသ / MIC/ ၀၁၁၁ /၂၀၁၇ ။

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၀ ) ရက်။

အကြောင်းအရာ ။ ။Myanmar -Korea Cement Group Co.,Ltd ၏ အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် သဘောထားမှတ်ချက် တောင်းခံထားသည့်ကိစ္စ။

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၂.၂၀၁၆ ရက်စွဲပါ တအမှတ်၊ မရက-၃/န-၁၄၀၉/၂၀၁၆ (၁၅၆၉)။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သတ်၍ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့သက်ဆိုင်ရာ Myanmar -Korea Cement Group Co.,Ltd မှ ကွင်းအမှတ် ၅၇၇၊ ဘိလိုကွင်း၊ နိုတုံကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၈၀၊ ကတုံကြာပ်ကွင်း၊ ကွင်းအမှတ် ၅၈၀ က၊ ကျောက်တောင်ကွင်းနှင့် ကွင်းအမှတ် ၅၈၁ က၊ ကလိုင်းကနိုင်ကွင်း၊ ကလိုင်းကနိုင်ကျေးရွာအုပ်စု၊ ကျိုက်မရောမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် ရှိ မြေ (၃၇၀.၉) ဧကတွင် အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း နှင့်ပတ်သတ်၍ လိုအပ်သော သဘောထား မှတ်ချက် ပေးရန် အကြောင်းကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၂.၀၂.၂၀၁၆)ရက်နေ့မှ (၃၀.၁.၂၀၁၇) ရက်နေ့အထိ လိုအပ်သော ပုံစံ များတောင်းခဲ့ရပြီး (၄.၂.၂၀၁၇) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၆.၂.၂၀၁၇) တွင် ထောက်ခံတင်ပြသော အရေးအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၇.၂.၂၀၁၇) နေ့တွင် ရရှိခဲ့ ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Myanmar -Korea Cement Group Co.,Ltd မှ ဦးစိုးသိဟဦး၊ လွင်အောင်ဦး၊ ဦးကျော်မြင့်၊ ဦးကျော်ကျော်ဦး၊ ဦးလှိုင်ဝင်းသန်း၊ ဒေါ်စန်းစန်းရီ တို့မှ (၇.၂.၂၀၁၇) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Committee အဖွဲ့ဝင် များဖြစ်ကြသော ဥက္ကဋ္ဌ ဦးအောင်မြင့်၊ အတွင်းရေးမှူး ဦးကြည်လွင်၊ အဖွဲ့ဝင် များဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးကိုကိုကြီး၊ ဦးခင်မောင်ဝင်း၊ ဦးခင်မောင်ဋ္ဌေး၊ ဦးခင်မောင်မောင်နှင့် ဦးတေဇထွေးဇော် တို့တက်ရောက်ခဲ့ကြပါသည်။

၅။ ထိုသို့ ရှင်းလင်းမှုများ အပြီးတွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ စီမံကိန်းအကောင်အထည်ဖော်ရေး နှင့် ပတ်သတ်၍ အောက်ပါ အချက်အလက်များကို လိုက်နာဆောင်ရွက်ရန် အကြံပြုအပ်ပါသည်။

(က) Clinker တွင် မီးထိုးရန်အတွက် ဘိလပ်မြေစက်ရုံတွင် တစ်နေ့ကျောက်မီးသွေး ၄၀၀ တန် အသုံးပြုမည် ဖြစ်ရာ ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်အောင် စီမံဆောင်ရွက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(ခ) ထုံးကျောက်တောင်ကို ထုးယူထုတ်လုပ်သုံးစွဲရာတွင် ၅ နှစ် တစ်ကြိမ် ပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေမှု ရှိစေမည့် စီမံချက်များ စနစ်တကျ ဆောင်ရွက်ရန် လျာထားသင့်ပါသည်။

၆။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် မွန်ပြည်နယ် တွင် အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၇။ အဆောက်အဦပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၈။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲ(၁) ပါ ဇယား ဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

၉။ Myanmar -Korea Cement Group Co.,Ltd မှ (၁.၂.၂၀၁၇) ရက်စွဲပါ စာဖြင့် Imported List တွင် ပါဝင် သည့် Tile,Iron Wire ကို မတင်သွင်း တော့ပါကြောင်း တင်ပြလာ သဖြင့် ပူးတွဲ (၂) ပါစာ ဖြင့် တင်ပြအပ်ပါသည်။

၁၀။ အဆောက်အဦ၏ Electrical, Water & Sanitation ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ ထို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာဝန်ကြီးဌာနများမှ သတ်မှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

[signature] ၁၀/၂/၁၇

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

MIC Projects Assessment Committee
Myanmar Engineering Society

မိတ္တူကို – Managing Director, Myanmar -Korea Cement Group Co.,Ltd
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

Address: MES Building, Hlaing Universities' Campus, Hlaing Township, Yangon 11052, Myanmar.

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Steel Rod | ၁၂၀၀၀ T | ၁၀၅၀၀ T | ၁၀၅၀၀ T |
| ၂။ | Steel | ၁၀၀၀၀ T | ၁၀၀၀၀ T | ၁၄၅၉ T |
| ၃။ | Coating | ၂၅ T | ၂၅ T | ၂၄.၃၆ T |
| ၄။ | Paint | ၁၀၀၀၀၀ L | ၁၀၀၀၀၀ L | ၅၀၀၀၀ L |
| ၅။ | Metal Sheet | ၆၀၀၀ m2 | ၉၅၀၀၀ m2 | ၆၀၀၀ m2 |
| ၆။ | Wire | ၂၀၀၀၀၀ m | ၂၀၀၀၀၀ m | ၁၆၀၀၀၀ m |
| ၇။ | Pile | ၅၀၀၀၀ m | ၁၀၀၀၀ m | ၈၀၀၀ m |

Ton = တန် , L = လီတာ , m2 = စတုရန်းမီတာ ,m = မီတာ



Address: MES Building, Hlaing Universities' Campus, Hlaing Township, Yangon 11052, Myanmar.

သို့
ဥက္ကဋ္ဌ
MIC Projects Assessment Committee
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

နေ့စွဲ။ ။ 01 FEB 2017

| | |
|---|---|
| အကြောင်းအရာ။ | ။Myanmar-Korea Cement Group Co., Ltd ၏ အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် သဘောထားမှတ်ချက် တောင်းခံထားသည့်ကိစ္စ။ |
| ရည်ညွှန်းချက် ။ | ။မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ (၉) ရက်နေ့ ရက်စွဲပါ စာအမှတ်၊ မအသ/MIC/ ၀၀၁၈/ ၂၀၁၇။ |

အထက်ရည်ညွှန်းစာပါ အမှတ်စဉ် (၄) Material List စာရင်းတွင် ပါဝင်သော Gypsmမှာ လူသားတို့၏ ကျန်းမာရေးနှင့် ပတ်သက်၍ ဆိုးရွားစွာထိခိုက်စေသဖြင့် အသုံးမပြုသင့်ကြောင်း အကြံပြုထားသည့် အတိုင်း ကျွန်တော်များ material list မှ ထုတ်ပယ်ပြီး ဖြစ်ပါသည်။

Imported Material List စာရင်းတွင် ရှိသော Tile နှင့် Iron Wire တို့ကိုလည်း Import မလုပ်တော့ပဲ Myanmar နိုင်ငံအတွင်း ဝယ်ယူပါမည်။

Imported Material List စာရင်းရှိ metal sheet ကို Belt Conveyor Roof from plant to jetty (38,000m²) နှင့် other buildings (27,000m²) အတွက် ၀.၄၂ mm (24 ဂိတ်) အထူရှိ metal sheets ကို Myanmar နိုင်ငံအတွင်း ဝယ်ယူပါမည်။

လေးစားလိုက်နာလျက်

Mr. Kim, Jihoon

Promoter

20 June 2017

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်း

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသူ၏

အဆိုပြုချက်

" မြန်မာ-ကိုရီးယားဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက် "

# PROPOSAL OF THE INVESTOR FOR MAKING INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

"MYANMAR-KOREA CEMENT GROUP CO., LTD."

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

Myanmar-Korea Cement Group Co.,Ltd.

To

Director

Myanmar Investment Commission

No. (1), Thitsar Road, Yankin Township, Yangon

1 0 JUN 2017

Subject: Logo for Cement Production of Myanmar-Korea Cement Group Co., Ltd.

We, Myanmar-Korea Cement Group Co., Ltd. would like to inform that logo for cement production is "99".

Mr. Kim, Jihoon

Promoter

သို့
ညွှန်ကြားရေးမှူး
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

18 JUN 2017

| | |
|---|---|
| အကြောင်းအရာ။ | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar-Korea Cement Group Co., Ltd. တည်ထောင်၍ အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်။ |
| ရည်ညွှန်းချက်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၃၀ရက်နေ့ ရက်စွဲပါ စာအမှတ် မရက-၃/ န-၁၄၀၉/ ၂၀၁၇ (၁၅၀)။ |

ကျွန်တော်များ Myanmar-Korea Cement Group Co., Ltd. သည် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတို့၏ သဘောထားမှတ်ချက်များ ရရှိပြီးဖြစ်၍ ထိုသဘောထားမှတ်ချက်ပါ ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ပါမည်။ ထို့ကြောင့် "အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန် ၃၀၀၀ ကျ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်" ကိုလည်း ရည်ညွှန်းပါစာအရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည် တင်ပြအပ်ပါသည်။

လေးစားလိုက်နာလျက်

Mr. Kim, Jihoon

Promoter

မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကျိုက်မရောမြို့နယ် - ကျိုက်မရောမြို့
စာအမှတ်၊ ၄ / ၆ - ၇ / ဦး ၁(အထဥ)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၆ ရက်

(မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန / စာအမှတ် / ရက်စွဲ / ကျိုက်မရောမြို့)

သို့

အုပ်ချုပ်ရေးမှူး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မော်လမြိုင်မြို့

အကြောင်းအရာ။ နှစ်ရှည်စက်မှု/စီးပွားအငှားဂရန်ပထမအကြိမ် လျှောက်ထားခြင်းအား ဆောင်ရွက်ခဲ့ တင်ပြခြင်း

ရည်ညွှန်းချက်။ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မော်လမြိုင်မြို့၏ (၂၃-၁၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၁ / ၄ - ၃၀(၂) / ဦး ၁(အထဥ).

၁။ ကျိုက်မရောမြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ ကွင်းအမှတ် / အမည် (၅၇၈ / ဘိလိုကွင်း)၊ ဦးပိုင်အမှတ် (၁၂၃)ခု၊ မြေချိန်ဧရိယာ (၃၁၇)ဧကရှိမြေကို ဘိလပ်မြေစက်ရုံမြေအဖြစ် အသုံးပြုရန်အတွက် စက်မှု/စီးပွားအငှားဂရန် ပထမအကြိမ် ချထားပေးပါရန် မော်လမြိုင်ဘိလပ်မြေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်ဥက္ကဋ္ဌ ဒေါက်တာ ခင်ရွှေမှ လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ မြေယာလုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ စိစစ်ဆောင်ရွက်ပြီး မြို့နယ်အုပ်ချုပ်ရေးမှူး သဘောထားမှတ်ချက်ပါသော အစီရင်ခံစာနှင့် အတူ ပြန်လည်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အမှုတွဲလွှဲပြောင်းပေးပို့လာပါသည်။

၂။ လျှောက်ထားမြေ (၃၁၇)ဧကသည် ကျိုက်မရောမြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၇၈)၊ ဘိလိုကွင်းအတွင်းတွင် တည်ရှိပြီး တနင်္သာရီတိုင်းမင်းကြီးရုံး၊ မော်လမြိုင်မြို့၏ (၂၈-၄-၁၉၆၉) ရက်စွဲပါစာအမှတ်၊ ၆၉ / မထထ - ၀၃ / ၆၉ အရ စားကျက်ထုတ်နုတ်ခွင့်ကျပြီး ဧရိယာ (၃၉၀.၀၀) ဧကတွင် ပါဝင်သော လယ်မြေဖြစ်ကြောင်း၊ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၈-၃-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ၁၅ / လယ - ၃၀ (၃၇၆/၂၀၁၆)အရ ဘိလပ်မြေ စက်ရုံတည်ဆောက်ရန် မြေနေရာအတွက် (၃၀-က) ရရှိထားသော မြေဧရိယာ (၃၇၀.၉၀)ဧကတွင် ပါဝင်သော မြေဖြစ်ပါသည်။

၃။ လျှောက်ထားမြေပေါ်တွင် ဘိလပ်မြေစက်ရုံ၏ ကုန်လုပ်လမ်းအဖြစ် အသုံးပြုရန်အတွက် လမ်းအရှည် (၅၇၅၂)ပေ ကို ဖောက်လုပ်ထားပြီး စက်ရုံနှင့်သက်ဆိုင်သည့် အဆောက်အဦများ ဆောက်လုပ်ထားခြင်းမရှိသေးကြောင်း၊ လျှောက်ထားမြေနှင့်ပတ်သက်၍ အရှုပ်အရှင်း တစ်စုံတစ်ရာမရှိကြောင်း၊

လျှောက်ထားသူ၊ ပတ်ဝန်းကျင်နေထိုင်သူတို့နှင့် သက်ဆိုင်ရာကျေးရွာအုပ်ချုပ်ရေးမှူးတို့၏ ထွက်ဆိုချက်များကို ရယူတင်ပြထားပါသည်။ ကျေးရွာကော်မတီ (၂)ရပ်မှလည်း ကန့်ကွက်ရန်မရှိကြောင်းနှင့်ခွင့်ပြုပေးသင့်ကြောင်း သဘောထားတင်ပြထားပါသည်။ ကန့်ကွက်ကြော်ငြာစာ ထုတ်ဆင့်ရာတွင်လည်း သတ်မှတ်ရက်ကုန်ဆုံးသည့်အထိ မည်သူ တစ်ဦးတစ်ယောက်မျှ လာရောက်ကန့်ကွက်သူမရှိသဖြင့် မြို့နယ်အုပ်ချုပ်ရေးမှူးမှ (၂၁-၂-၂၀၁၇) ရက်နေ့တွင် ကွင်းဆင်းကြည့်ရှုစစ်ဆေးခဲ့ရာ မြေကြီးမြေပုံ အလား(၄)ရပ်တို့ ကိုက်ညီမှန်ကန်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ လျှောက်ထားမြေသည် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ဘိလပ်မြေစက်ရုံ တည်ဆောက်ရန် မြေအဖြစ် အသုံးပြုရန်အတွက် အခြားနည်းအသုံးပြုခွင့် (၃၀-က) လုပ်ကိုင်ခွင့်ပြုမိန့်များရရှိထားသော မြေဖြစ်ခြင်း၊ လျှောက်ထားမြေပေါ်တွင် ဘိလပ်မြေစက်ရုံ၏ ကုန်ထုတ်လမ်းအဖြစ် အသုံးပြုရန်အတွက် လမ်းအရှည်(၄၇၅၂)ပေကို ဖောက်လုပ်ထားပြီး စက်ရုံနှင့်သက်ဆိုင်သည့် အဆောက်အဦများ ဆောက်လုပ်ထားခြင်းမရှိသေးကြောင်း၊ လျှောက်မြေနှင့် ပတ်သက်၍ မြေယာအရှုပ်အရှင်း တစ်စုံတစ်ရာမရှိခြင်းတို့ကြောင့် ဘိလပ်မြေစက်ရုံမြေအဖြစ် အသုံးပြု ရန်အတွက် နှစ်ရှည်စက်မှုမြေငှား အငှားဂရန် ပထမအကြိမ် ချထားပေးပါရန် ဒေါက်တာခင်ရွှေမှ လျှောက်ထားလာခြင်းအပေါ် ခွင့်ပြုချထားပေးသင့်ပါကြောင်း ထောက်ခံလျှက်အမှုတွဲနှင့်အတူ တင်ပြ အစီရင်ခံအပ်ပါသည်။

အုပ်ချုပ်ရေးမှူး

( ညွှန့်ရွှေ၊ ပ/၃၈၄၇ )

မိတ္တူကို

ဒေါက်တာ ခင်ရွှေ၊ အမှတ်(၇၇-F)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

အမှုတွဲလက်ခံ

လှည့်လည်စာတွဲ

လက်ခံစာတွဲ

# မော်လမြိုင်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

(လိုင်စင်/နှစ်တို/နှစ်ရှည်/မြေငှားဂရန်လျှောက်လွှာပုံစံ)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ရက်

| | |
|---|---|
| (၁) လျှောက်ထားသူအမည်နှင့်အမျိုးသားမှတ်ပုံတင် (သို့)စိစစ်ရေးကတ်ပြားအမှတ် | ဒေါက်တာ ခင် ဇေ<br>၁၂/ဗဟန(နိုင်)၀၅၅၃၇၇၃ |
| (၂) လျှောက်ထားသူ၏အလုပ်အကိုင် | ပါမောက္ခ၊<br>ဌာနမှူး ဓာတ်ဗေဒဌာန ရန်ကုန်တက္ကသိုလ် |
| (၃) လျှောက်ထားသူ၏ နေရပ်လိပ်စာအပြည့်အစုံ/ ဆက်သွယ်ရန်ဖုန်းအမှတ် | အမှတ် ၇၇ (F)၊ ... ... ... ... ... ... ...<br>Ph- |
| (၄) လျှောက်ထားသည့်မြေ | ကျိုက်မရော မြို့နယ် ... ... ... ရပ်ကွက်/ ကျေးရွာ၊အကွက်၊ကွင်းအမှတ်/အမည်( ၅၇၈၊ ... ကွင်း )<br>ဦးပိုင်အမှတ်( ... ... ... )ရှိမြေချိန်ဧရိယာ ( ၃၇၀.၉၀ )ဧကအနက်မှဧရိယာ( ၃၁၇.၀၄ ) ဧကရှိမြေ |
| (၅) လျှောက်မြေ၏ နယ်နိမိတ်အလားလေးရပ် | အရှေ့ဘက် ... ... ...<br>အနောက်ဘက် ၅၈၀၊ ... ... ကွင်း၊<br>တောင်ဘက် ၅၇၇၊ ... ... ကွင်း<br>မြောက်ဘက် ... ... ... |
| (၆) လျှောက်မြေပေါ်ရှိ နေအိမ်အဆောက်အဦး အမျိုးအစားအခြေအနေကိုပြည့်စုံစွာဖော်ပြရန် | |
| (၇) လျှောက်မြေနှင့်မြေပေါ် နေအိမ်အဆောက်အဦး လျှောက်ထားသူမှ လက်ရှိအသုံးပြု နေထိုင်မှုရှိ/ မရှိ လျှောက်ထားသူကိုယ်တိုင် အသုံးပြုနေထိုင် ခြင်းမရှိပါက အခြားမည်သည့်နည်း၊ မည်ကဲ့သို့ အသုံးပြုထားသည် | |
| (၈) လျှောက်ထားချက် အကြောင်းအရာ | လိုင်စင်/နှစ်တို/နှစ်ရှည်<br>ဂရန်(ပထမ)အကြိမ် ချထားပေးရန်<br>သက်တမ်းတိုးလဲလှယ်ပေးရန်<br>အမည်ပြောင်းပေးရန်<br>ခွဲစိတ်အမည်ပြောင်းပေးရန်<br>သက်တမ်းတိုး/ခွဲစိတ် အမည်ပြောင်းပေးရန် |

ZAYKABAR Company Limited

No.(1) MINGALARDON GARDEN CITY, HIGHWAY No.(3) MINGALARDON TOWNSHIP, YANGON, MYANMAR.
TEL : (951) 639303, 639304, 639305, 639306 Email : zaykabar.coltd@gmail.com Fax : (951) 639395

စာအမှတ်၊ ၊ZKB/ စီမံ - ၁/၀၀၃/၀၀၁ (ဘိလပ်မြေ) - ၂၀၁၆။
ရက်စွဲ ၊ ၊၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ - ၂၇ - ရက်။

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့
မော်လမြိုင်မြို့

အကြောင်းအရာ ၊ ၊ ဘိလပ်မြေစက်ရုံစီမံကိန်းအကောင်အထည်ဖော်မည့် လယ်မြေ (၃၇၀.၉)ဧကအား စက်မှုလုပ်ငန်းသုံးမြေအဖြစ် အတည်ပြုသတ်မှတ် ခွင့်ပြုပေးပါရန်။
ရည်ညွှန်းချက် (၁)၊ ၊ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ၂၀၁၆ ခုနှစ်၊ မတ်လ (၈)ရက်နေ့စွဲပါစာအမှတ် ၁၅/လယ - ၃၀ (၅၁၁ / ၂၀၁၆) (ပူးတွဲ - ၁)။
ရည်ညွှန်းချက် (၂) ၊ ၊ဥက္ကဋ္ဌ၊ မွန်ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏၂၀၁၅ ခုနှစ်၊ဇန်နဝါရီလ - (၂၇) ရက်စွဲပါစာအမှတ်၁၉ / ၁၈ / လယ၀ / ၂၀၁၄ (ပူးတွဲ - ၂)။

၁။ အထက်ပါကိစ္စနှင့်ပတ်သက်၍ ဇေကမ္ဘာကုမ္ပဏီလီမိတက်သည်၊ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီတုံ/ ကလိုင်းကနိုင် ကျေးရွာအုပ်စုရှိလယ်ယာမြေဧက (၃၇၀.၉) ဧကတွင် လယ်မြေကိုအခြားနည်းဖြစ်သော တစ်ရက်လျှင် ကလင်ကာတန် (၃၀၀၀)၊ သို့မဟုတ် ၊ ဘိလပ်မြေတန် (၃၁၅၀) ကျဘိလပ်မြေစက်ရုံစီမံကိန်း အကောင်အထည်ဖော် အသုံးပြုရန်ခွင့်ပြုမိန့် (ပုံစံ - ၁၅) ကို ရည်ညွှန်းချက် (၁)(ပူးတွဲ - ၁) ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ အလားတူပြည်ထောင်စုဝန်ကြီးဌာနဖြစ်သော စက်မှုဝန်ကြီးဌာနကလည်း လယ်မြေကိုအခြားနည်းဖြစ် သောတန် (၃၀၀၀) ကျဘိလပ်မြေစက်ရုံ ဆောက်လုပ်ရန်အတွက် ကန့်ကွက်ရန်မရှိပါကြောင်း ပူးတွဲပါစက်မှုဝန် ကြီးဌာန၏ ၂၀၁၅ ခုနှစ်၊ မေလ (၅)ရက်နေ့စွဲပါစာအမှတ် - ၂၀ - စမ (၂) ၂၀၁၅ - ၂၀၁၆ (၂၉၇)ဖြင့်(ပူးတွဲ - ၂) ထုတ်ပြန်ခဲ့ပြီးဖြစ်ပါသည်။

၃။ ထို့အတူ ဥက္ကဋ္ဌ၊ မွန်ပြည်နယ်၊ လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ကလည်း ရည်ညွှန်းချက် (၂) (ပူးတွဲ - ၂) ဖြင့် အတည်ပြုခွင့် ပြုပေးနိုင်ပါရန် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှု အဖွဲ့သို့ ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။

၄။ သို့ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုအဖွဲ့၏လိုအပ်ချက်အရဖော်ပြပါကျိုက်မရောမြို့နယ်၊နိုတုံ/ကလိုင်းကနိုင် ကျေးရွာအုပ်စုရှိလယ်မြေ(၃၇၀.၉)ဧကအား ဘိလပ်မြေစက်ရုံစီမံကိန်း အကောင်အထည်ဖော်ဆောင်ရွက်ရန် စက်မှုလုပ်ငန်းသုံးမြေအဖြစ် အတည်ပြုသတ်မှတ်ခွင့်ပြုပေးပါရန် အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာခင်ရွှေ

ဥက္ကဋ္ဌ

ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

မိတ္တူကို -

၁။ ဝန်ကြီး - စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်အစိုးရရုံး။

၂။ ပြည်နယ်ဦးစီးဌာနမှူး၊ မွန်ပြည်နယ် လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန။

၃။ မော်လမြိုင်ခရိုင်၊ လယ်ယာမြေစီမံခန့်ခွဲမှုနှင့် စာရင်းအင်းဦးစီးဌာန။

၄။ ကျိုက်မရောမြို့နယ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန

၅။ ရုံးလက်ခံ

**ZAYKABAR Company Limited**

No.(1) MINGALARDON GARDEN CITY, HIGHWAY No.(3) MINGALARDON TOWNSHIP, YANGON, MYANMAR.
TEL : (951) 639303, 639304, 639305, 639306 Email : zaykabar.coltd@gmail.com Fax : (951) 639395

စာအမှတ် ။ ZKB / စီမံ-၁ / ၀၀၃ / ၀၀၄ (ဘိလပ်မြေ) ၂၀၁၆။
ရက်စွဲ ။ ၂၀၁၆ခုနှစ် ၊ နိုဝင်ဘာလ ၊ (၉) ရက် ။

သို့

ဝန်ကြီးချုပ်
မွန်ပြည်နယ်အစိုးရအဖွဲ့
မော်လမြိုင်မြို့

အကြောင်းအရာ ။ ။ ကျိုက်မရောမြို့နယ်၊နိတုံကျေးရွာအုပ်စု၊ နီးဒုံးတောင်ဒေသ၊ နီးဒုံးတောင်ဘိလပ်မြေ စက်ရုံစီမံကိန်းအား အတည်ပြု ထောက်ခံပေးပါရန်တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏(၈.၃.၂၀၁၆) ရက်နေ့စွဲပါစာအမှတ်၁၅/လယ-၃၀ (၃၇၆/၂၀၁၆) နှင့် ၁၅/လယ-၃၀ (၅၁၀/၂၀၁၆)

၁။ အထက်ပါကိစ္စနှင့် ပတ်သက်၍ ဇေကမ္ဘာကုမ္ပဏီလီမိတက်သည် မြန်မာစွမ်းပကားစက်မှုကုမ္ပဏီ လီမိတက်၊ ကိုရီးယားနိုင်ငံ MISAN International Co:Ltd တို့နှင့် အကျိုးတူပူးပေါင်း၍ မြန်မာကိုရီးယား ဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက် (Myanmar - Korea Cement Group Co:Ltd) (Joint Venture Co:) အမည် ဖြင့် မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ နီးဒုံးတောင်ဒေသတွင် တစ်ရက်လျှင် ကလင်ကာတန် (၃၀၀၀) ဘိလပ်မြေ (၃၁၅၀) တန်ကျ ဘိလပ်မြေစက်ရုံ စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရေး အတွက် ပြည်ထောင်စုမြန်မာနိုင်ငံ ရင်နီးမြှုပ်နှံမှုကော်မရှင်သို့ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၇) ရက်နေ့တွင် တွေ့ဆုံတင်ပြခဲ့ ပါသည်။

၂။ နီးဒုံးတောင်ဘိလပ်မြေစက်ရုံစီမံကိန်းအား လယ်မြေဧရိယာ (၃၇၀.၉၀)ဧက၊ [ကွင်းအမှတ် (၅၇၈) ဘိလိုကွင်း ၊ ဦးပိုင်ပေါင်း (၁၅၇) ခု၊ ကွင်းအမှတ် (၅၈၀) ကတုံကြပ်ကွင်း၊ (၅၈၀-က) ကျောက်တောင်ကွင်း၊ (၅၈၁-က) ကလိုင်းကနိုင်ကွင်း၊ ဦးပိုင်ပေါင်း (၃၈) ခု၊ ဧရိယာ (၃၄.၄၆) ဧက၊ စုစုပေါင်း (၁၉၅) ခု - ဧရိယာ (၃၇၀.၉၀)ဧက] တွင် အခြားနည်းဖြင့် အသုံးပြုခွင့်ကို ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ၂၀၁၆ ခုနှစ်၊ မတ်လ (၈) ရက်နေ့တွင် အထက်ပါရည်ညွှန်းချက်ဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

၃။ အလားတူ နီးဒုံးတောင်ဘိလပ်မြေစက်ရုံစီမံကိန်းနှင့် ပတ်သက်၍ ပူးတွဲ (၁)(၂)(၃)(၄)(၅)(၆)(၇) ပါ အတိုင်း (၆.၈.၂၀၁၅) ရက်နေ့တွင် ပြည်နယ်သစ်တောဦးစီဌာန၊ ညွှန်ကြားရေးမှူးဦးဆောင်သောအဖွဲ့မှ ဘိလပ်မြေစီမံကိန်းကြောင့် သဘာဝပတ်ဝန်းကျင်နှင့် လူမှုစီးပွားဝန်းကျင်ထိခိုက်မှုရှိ/ မရှိကွင်းဆင်းစစ်ဆေး၍လည်းကောင်း၊ (၂၇.၁.၂၀၁၅) ရက်နေ့တွင် မွန်ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၊ ဥက္ကဋ္ဌမှလည်းကောင်း၊ (၁၆.၁.၂၀၁၅) ရက်နေ့တွင် မွန်ပြည်နယ်ဝန်ကြီးချုပ်နှင့် (၉.၁.၂၀၁၂) ရက်နေ့တွင် အတွင်းရေးမှူး မွန်ပြည်နယ် အစိုးရအဖွဲ့မှလည်းကောင်း၊ (၅.၈.၂၀၁၁) ရက်နေ့တွင် မွန်ပြည်နယ်အစိုးရအဖွဲ့မှလည်းကောင်း၊ (၂.၈.၂၀၁၁) ရက်နေ့တွင်အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးမှလည်းကောင်း အသီးသီး ကန့်ကွက်ရန်မရှိပါကြောင်း သက်ဆိုင်ရာ အဖွဲ့အစည်း၊ ဝန်ကြီးဌာနအသီးသီးသို့ အတည်ပြုအကြောင်းကြားခဲ့ပြီး ဖြစ်သကဲ့သို့ ပူးတွဲ (၇) ပါအတိုင်း ဒေသခံများမှသည် ထောက်ခံခဲ့ကြပါသည်။

၄။ သို့ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ တွေ့ဆုံအကြံပြုချက်အရ မြန်မာ – ကိုရီးယား ဘိလပ်မြေ အုပ်စုကုမ္ပဏီလီမိတက် (Myanmar - Korea Cement Group Co:Ltd) မှ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသရှိ လယ်မြေဧက (၃၇၀.၉) ဧကတွင် အကောင်အထည်ဖော် ဆောင်ရွက်မည့် ဘိလပ်မြေစီမံကိန်းအပေါ် မွန်ပြည်နယ် အစိုးရအဖွဲ့မှ ထပ်လောင်း၍ ကန့်ကွက်ရန်မရှိကြောင်း အတည်ပြုထောက်ခံပေးနိုင်ပါရန် အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာခင်ဈ
ဥက္ကဋ္ဌ
ဇေကာမ္ဘာကုမ္ပဏီလီမိတက်

မိတ္တူ –
၁။ ဝန်ကြီး၊ သစ်တောနှင့်သတ္တုဝန်ကြီးဌာန
ပြည်နယ်အစိုးရအဖွဲ့၊ မွန်ပြည်နယ်။
၂။ ပြည်နယ်ဦးစီးမှူး၊ လယ်ယာမြေစီမံခန့်ခွဲရေး
နှင့်စာရင်းအင်း ဦးစီးဌာန၊ မွန်ပြည်နယ်။
၃။ ပြည်နယ်ဦးစီးမှူး၊ ပြည်နယ်စိုက်ပျိုးရေးဦးစီးဌာန။
၄။ ညွှန်ကြားရေးမှူး၊ စက်မှုကြီးကြပ်ရေးနှင့်
စစ်ဆေးရေးဦးစီးဌာန၊ မွန်ပြည်နယ်။
၅။ အုပ်ချုပ်ရေးမှူး၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မွန်ပြည်နယ်။
၆။ ရုံးလက်ခံ

သို့
ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

30 NOV 2016

| | |
|---|---|
| အကြောင်းအရာ။ | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar - Korea Cement Group Co., Ltd. တည်ထောင်၍ အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင်တန် ၃၀၀၀ကျ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်။ |
| ရည်ညွှန်းချက်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၅ရက်နေ့ ရက်စွဲပါ စာအမှတ် မရက-၃/ န-၁၄၀၉/ ၂၀၁၆ (၁၄၆၃) |

ကျွန်တော်များ Myanmar - Korea Cement Group Co., Ltd. သည် အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၇ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၁/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး၏ ဆုံးဖြတ်ချက်များကို လိုက်နာဆောင်ရွက်လျှက် ရှိပါသည်။ ဆောင်ရွက်ပြီးစီးသည့် အောက်ပါတို့ကို ပူးတွဲပါ စာရွက်စာတမ်းများဖြင့် တင်ပြအပ်ပါသည်။

(၁) ရည်ညွှန်းစာပါ အမှတ်စဉ်(က) မြေဌားစာချုပ် (မူကြမ်း)၊ Investment Structure နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများ ပြင်ဆင်တင်ပြရန် ဟူသော ဆုံးဖြတ်ချက်အရ မြေဌားစာချုပ် (မူကြမ်း)နှင့် Investment Structure ကို ပြင်ဆင်ပြီးဖြစ်၍ ပြန်လည် တင်ပြအပ်ပါသည်။ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများကိုမူ ပြန်လည်ပြင်ဆင်ဆောင်ရွက်လျက် ရှိပါသည်။

(၂) ရည်ညွှန်းစာပါ အမှတ်စဉ်(ခ) အရ ပြည်ပမှ တင်သွင်းမည့် စက်နှင့်စက်ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန် ဟူသော ဆုံးဖြတ်ချက်အရ EPC ကန်ထရိုက်တာ Nanjing C-Hope Cement Engineering Group Co., Ltd. မှ ပြန်လည် စိစစ်လျက်ရှိပါသည်။

(၃) ရည်ညွှန်းစာပါ အမှတ်စဉ်(ဂ) အရ နှစ်စဉ်ကုန်ကြမ်းရရှိမှု အခြေအနေနှင့် ကုန်ကြမ်းများ ထုတ်လုပ်ခွင့်ရရှိထားမှု အခြေအနေတို့ကို တင်ပြရန်ဟူသော ဆုံးဖြတ်ချက်ကို လိုက်နာ ဆောင်ရွက်ပြီးဖြစ်၍ ပြန်လည်တင်ပြအပ်ပါသည်။ မြေစေး ကုန်ကြမ်းတူးဖော်ခွင့်မှာမူ လျှောက်ထားဆဲဖြစ်၍ လျှောက်လွှာကို ပူးတွဲတင်ပြအပ်ပါသည်။

(၄) ရည်ညွှန်းစာပါ အမှတ်စဉ်(ဃ) အရ နှစ်အလိုက် ပြည်တွင်းဝန်ထမ်း ခန့်ထားမှု ဖော်ပြရန်ဟူသော ဆုံးဖြတ်ချက်အရ ပြင်ဆင်ပြီးဖြစ်၍ ပြန်လည်တင်ပြအပ်ပါသည်။

လေးစားလိုက်နာလျက်

Mr. Kim, Jihoon

Promoter

# သဲရောင်းဝယ်မှု လုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု

## စာချုပ်လွှာ

---------- ခုနှစ်၊ -------လ (--) ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အမှတ်(၇၀၇) (B)၊ ပုလဲကွန်ဒို၊ ကမ္ဘာ့အေးဘုရားလမ်းရှိ မြန်မာ- ကိုးရီးယားဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက် (MKCG) မှ ဝယ်ယူသူအဖြစ်လည်းကောင်း၊ မော်လမြိုင်မြို့နယ် ၊မွန္တလေးရပ်ကွက်၊ ထွန်း(သဲ+ကျောက်) ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်မှ ရောင်းချသူအဖြစ်လည်းကောင်း၊ သဲရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချုပ်လွှာကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့် လက်မှတ်ရေးထိုးကြပါသည်-

(၁) ဝယ်ယူမည့် မြန်မာ- ကိုးရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ်၊ နီးဒုံးတောင်ဒေသတွင် ဆောက်လုပ်မည့် တစ်ရက်တန်ချိန်(၃၀၀၀)ကျ ဘိလပ်မြေ စက်ရုံအတွက် ကုန်ကြမ်းအဖြစ် ဝယ်ယူမည်ဖြစ်ပါသည်။

(၂) သဲဝယ်ယူမည့် တန်ချိန်မှာနှစ်စဉ် (၅၀၀၀၀) တန်ဖြစ်ပါသည်။

(၃) ဝယ်ယူမည့်ကာလမှာ ၂၀၁၇- ၂၀၁၈ ပွင့်လင်းရာသီအတွင်းမှ စတင်၍ ၂၀၁၉- ၂၀၂၂ ခုနှစ်အထိ ဖြစ်ပါသည်။

(၄) နှုံးမပါသောအရည်အသွေး ပြည့်မီသည့် သဲဖြစ်ရပါမည်။

(၅) သတ်မှတ်အရည်အသွေးမီသဲများကိုရောင်းချသူ "ထွန်း(သဲ+ကျောက်) ရောင်းဝယ်ရေး" ကုမ္ပဏီလီမိတက်မှ နီးဒုံးတောင်ဘိလပ်မြေစက်ရုံဆိပ်ကမ်းသို့ အရောက်ပို့ဆောင်ပေးရပါမည်။

(၆) နီးဒုံးတောင်ဘိလပ်မြေစက်ရုံဆိပ်ကမ်းမှ သဲများကို ဝယ်ယူသူမှစက်ရုံအရောက်တာဝန်ယူ ပို့ဆောင်ချိန်တွယ်၍ စက်ရုံ၏သတ်မှတ်အလေးချိန်အတိုင်း "ထွန်း(သဲ+ကျောက်) ရောင်းဝယ်ရေး" ကုမ္ပဏီလီမိတက်သို့ သတ်မှတ်တန်ဖိုးဖြင့် ငွေပေးချေရမည်။

(၇) ဈေးနှုန်းသတ်မှတ်ချက်မှာသဲတစ်တန်လျှင် စက်ရုံအရောက် (၅၀၀၀/-) ကျပ်ဖြစ်ပြီးငွေပေးချေမှု စနစ်ကိုထပ်မံညှိနှိုင်း၍ စာချုပ်ချုပ်ဆိုပါမည်။

အထပ်ပါစည်းကမ်းချက်များကို နှစ်ဖက်ညှိနှိုင်းသဘောတူပြီးသိရှိနားလည်ကြပြီးဖြစ်သည့်အတွက် အောက်ပါအသိသက်သေများရှေ့တွင် သဲရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချုပ်လွှာကိုလက်မှတ် ရေးထိုးချုပ်ဆိုကြပါသည်။

| (ဝယ်ယူသူ) | (ရောင်းချသူ) |
| --- | --- |
| ဦးစိုးသီဟ | ဦးမိုးကျော်ဇင် |
| အထွေထွေမန်နေဂျာ (MKCG) | ၁၀/မလမ(နိုင်)၀၀၃၆၆၄ |
| | ၀၉-၈၇၀၁၂၅၅ |
| | ထွန်း(သဲ+ကျောက်)ရောင်းဝယ်ရေး |

အသိသက်သေများ

၁။ ၂။

"ကျောက်မီးသွေး ရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချွန်လွှာ"

------------ခုနှစ်၊ -------------လ၊ ---------ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အမှတ် (၇၀၇)၊ (B)၊ ပုလဲကွန်ဒို၊ ကမ္ဘာ့အေးဘုရားလမ်းရှိ မြန်မာ-ကိုးရီးယားဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက် (MKCG)မှ ဝယ်ယူသူအဖြစ်လည်းကောင်း၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ တောင်ဥက္ကလာပမြို့နယ် အမှတ် (၇၀၆) (ခ)၊ ကုန်းဘောင်(၁၆)လမ်း၊ (၆)ရပ်ကွက်ရှိ ပြည့်စုံဖြိုးကုမ္ပဏီမှ ရောင်းချသူအဖြစ်လည်းကောင်း၊ ကျောက်မီးသွေးရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့် လက်မှတ်ရေးထိုးကြပါသည်။

(၁) ဝယ်ယူမည့် မြန်မာကိုးရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသတွင် ဆောက်လုပ်မည့် တစ်ရက်တန်ချိန် (၃၀၀၀)ကျ ဘိလပ်မြေစက်ရုံအတွက် ဝယ်ယူမည် ဖြစ်ပါသည်။

(၂) ကျောက်မီးသွေးဝယ်ယူမည့်တန်ချိန်မှာ တစ်နှစ်အတွင်း ရက် (၃၀၀) အတွက် တန်ချိန်မှာ (၁၂၀,၀၀၀) တန် ဖြစ်ပါသည်။

(၃) ဝယ်ယူမည့်ကာလမှာ ၂၀၁၈-၂၀၁၉ ပွင့်လင်းရာသီအတွင်း ဖြစ်ပါသည်။

(၄) ကလေးဝမြို့နယ်၊ ကျောက်အုံဒေသထွက် သတ်မှတ်အရည်အသွေးပြည့်မီသော ကျောက်မီးသွေးများကို ရောင်းချသူ ပြည့်စုံဖြိုးကုမ္ပဏီမှ အောက်ဖော်ပြပါ သတ်မှတ်တန်ဖိုးများဖြင့် ရောင်းချပေးပါမည်။

(က) ကလေးဝမြို့နယ် မြစ်သာမြစ်ကမ်းဘေး လုပ်ငန်းရှိရာဒေသရှိ လုပ်ငန်းခွင် ဈေးနှုန်းတစ်တန်လျှင် (၆၅,၀၀၀)ကျပ် ဖြစ်ပါသည်။

(ခ) မန္တလေးမြို့နယ် သပိတ်ကျင်းအနီးရှိကုမ္ပဏီပိုင်လုပ်ငန်းခွင်ဈေးနှုန်းတစ်တန်လျှင် (၈၅,၀၀၀)ကျပ် ဖြစ်ပါသည်။

(ဂ) မွန်ပြည်နယ်ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသရှိ စက်ရုံပိုင် အတွဲ့ရုံမြစ်ကမ်းဘေး လုပ်ငန်းခွင်အရောက် တစ်တန်လျှင် (၁၂၀,၀၀၀)ကျပ် ဖြစ်ပါသည်။

(၅) အထက်ဖော်ပြပါ ဈေးနှုန်းများမှ ရောင်းချသူမှလက်ရှိဖြစ်ပေါ်လျက်ရှိသော ဈေးနှုန်းများဖြစ်ပြီး လုပ်ငန်းစတင်ချိန် (၂၀၁၈-၂၀၁၉)ရာသီချိန်တွင် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ထိုအချိန်တွင် ဖြစ်ပေါ်လာမည့် ဈေးနှုန်းကို ပြန်လည်သတ်မှတ်၍သဘောတူစာချုပ်ကို ပြန်လည်ချုပ်ဆိုမည် ဖြစ်ပါသည်။

(၆) နှစ်ဖက်သဘောတူစာချုပ်ကြီး ချုပ်ဆိုချိန်တွင် ဝယ်ယူသူမှ ရောင်းချသူသို့ လုပ်ငန်းများ အစဉ်ပြေချောမွေ့စွာ လုပ်ကိုင်နိုင်ရန်အတွက် ကြိုတင်ငွေအဖြစ် (၂၀%)ကိုပေးသွင်းရမည် ဖြစ်ပါသည်။

အထက်ပါစည်းကမ်းချက်များကို နှစ်ဖက်ညှိနှိုင်းသဘောတူပြီးသိရှိနားလည်ကြပြီး ဖြစ်သည့်အတွက် အောက်ပါ အသိသက်သေများရှေ့တွင် ကျောက်မီးသွေး (ကလေးဝဒေသထွက်) ရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်နားလည်မှု စာချွန်လွှာကို ရေးထိုးချုပ်ဆိုကြပါသည်။

| (ဝယ်ယူသူ) | (ရောင်းချသူ) |
|---|---|
| ဦးစိုးသီဟ | ဦးလှိုင်ဝင်းကို |
| အထွေထွေမန်နေဂျာ (MKCG) | ၁၂/ပကတ(နိုင်)၀၀၁၃၂၇ |
| | ပြည့်စုံဖြိုး ကုမ္ပဏီလီမိတက် |

အသိသက်သေများ

| | |
|---|---|
| ၁။ | ၂။ |

ဂဝံကျောက်ရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု

စာချုပ်လွှာ

------- ခုနှစ်၊ ---------------လ (--) ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အမှတ်(၇၀၇) (B)၊ ပုလဲကွန်ဒို၊ ကမ္ဘာ့အေးဘုရားလမ်းရှိ မြန်မာ - ကိုးရီးယား ဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက် (MKCG) မှဝယ်ယူသူ အဖြစ်လည်းကောင်း၊ ကျိုက်မရောမြို့နယ်၊ ငပြေမကျေးရွာ ၊ ရွှေကျောက်အိုင်ကုမ္ပဏီလီမိတက်မှ ရောင်းချသူအဖြစ် လည်းကောင်း၊ ဂဝံကျောက် ရောင်းဝယ်မှုလုပ်ငန်း အတွက် နှစ်ဖက်သဘောတူနားလည်မှု စာချုပ်လွှာကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့် လက်မှတ်ရေးထိုးကြပါသည်-

(၁) ဝယ်ယူမည့် မြန်မာ - ကိုးရီးယား ဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ် ၊ ကျိုက်မရော မြို့နယ် ၊ နီးဒုံးတောင်ဒေသတွင် ဆောက်လုပ်မည့် တစ်ရက်တန်ချိန်(၃၀၀၀)ကျ ဘိလပ်မြေစက်ရုံအတွက် ကုန်ကြမ်းအဖြစ် ဝယ်ယူမည်ဖြစ်ပါသည်။

(၂) ဂဝံကျောက်ဝယ်ယူမည့် တန်ချိန်မှာ နှစ်စဉ် (၂၇၀၀၀) တန်ဖြစ်ပါသည်။

(၃) ဝယ်ယူမည့် ကာလမှာ ၂၀၁၇-၂၀၁၈ ပွင့်လင်းရာသီအတွင်းမှ စတင်၍ ၂၀၁၉-၂၀၂၂ ခုနှစ်အထိ ဖြစ်ပါသည်။

(၄) (၁) ကုဗပေထက်မကြီးသောအရည်အသွေးအမီ ဂဝံကျောက်ဖြစ်ရပါမည်။

(၅) သတ်မှတ်အရည်အသွေးမီ ဂဝံကျောက်များကို ရောင်းချသူ "ရွှေကျောက်အိုင်" ကုမ္ပဏီလီမိတက်မှ နီးဒုံးတောင် ဘိလပ်မြေစက်ရုံဆိပ်ကမ်းသို့ အရောက် ပို့ဆောင်ပေးရပါမည်။

(၆) နီးဒုံးတောင် ဘိလပ်မြေစက်ရုံဆိပ်ကမ်းမှ ဂဝံကျောက်များကို ဝယ်ယူသူမှ စက်ရုံအရောက် တာဝန်ယူပို့ဆောင်ချိန်တွက်၍ စက်ရုံ၏ သတ်မှတ်အလေးချိန်အတိုင်း "ရွှေကျောက်အိုင်" ကုမ္ပဏီ လီမိတက်သို့ သတ်မှတ်တန်ဖိုးဖြင့် ငွေပေးချေရမည်။

(၇) ဈေးနှုန်းသတ်မှတ်ချက်မှာ ဂဝံကျောက်တစ်တန်လျှင် စက်ရုံအရောက် (၁၂၅၀၀/-) ကျပ် ဖြစ်ပြီး ငွေပေးချေမှုစနစ်ကို ထပ်မံညှိနှိုင်း၍ စာချုပ်ချုပ်ဆိုပါမည်။

အထက်ပါစည်းကမ်းချက်များကို နှစ်ဖက်ညှိနှိုင်းသဘောတူပြီးသိရှိနားလည်ကြပြီးဖြစ်သည့်အတွက် အောက်ပါ အသိသက်သေများရှေ့တွင် ဤဂဝံကျောက်ရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူ နားလည်မှု စာချုပ်လွှာကို လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| (ဝယ်ယူသူ) | (ရောင်းချသူ) |
|---|---|
| ဦးစိုးသီဟ | ဦးစောဌေးအာကာ (MD) |
| အထွေထွေမန်နေဂျာ (MKCG) | ၃/ကဆက(နိုင်)၀၄၅၂၄၉ |
| | ရွှေကျောက်အိုင် |
| ကုမ္ပဏီလီမိတက် | |

အသိသက်သေများ

၁။ ၂။

# ဂေါ်ဒန်ကျောက်ရောင်းဝယ်မှု လုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချွန်လွှာ

---------------- ခုနှစ်၊ ---------------- ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အမှတ်(၇၀၇)(B)၊ ပုလဲကွန်ဒို ၊ ကမ္ဘာအေးဘုရားလမ်းရှိ မြန်မာ-ကိုးရီးယား ဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက် (MKCG) မှဝယ်ယူသူအဖြစ်လည်းကောင်း ၊ ကရင်ပြည်နယ်၊ ဘားအံမြို့၊ အမှတ် (၁/၃၈၂)၊ ဆင်းသီရိလမ်း၊ (၁)ရပ်ကွက်ရှိ လေဒီမြင့်နှင့်သားများစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ရောင်းချသူ အဖြစ်လည်းကောင်း၊ ဂေါ်ဒန်ကျောက်ရောင်းဝယ်မှု လုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချွန်လွှာကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့် လက်မှတ်ရေးထိုးကြပါသည်-

(၁) ဝယ်ယူမည့် မြန်မာ-ကိုးရီးယား ဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ်၊ နီးဒုံးတောင်ဒေသတွင် ဆောက်လုပ်မည့် တစ်ရက်တန်ချိန်(၃၀၀၀)ကျ ဘိလပ်မြေစက်ရုံ အတွက် ဝယ်ယူမည်ဖြစ်ပါသည်။

(၂) ဂေါ်ဒန်ကျောက် ဝယ်ယူမည့် တန်ချိန်မှာ (၅၀၀၀၀) တန်ဖြစ်ပါသည်။

(၃) ဝယ်ယူမည့်ကာလမှာ ၂၀၁၇-၂၀၁၈ ပွင့်လင်းရာသီအတွင်း ဖြစ်ပါသည်။

(၄) (၁) ကုဗမီတာထက်မကြီးသော အရွယ်အစားမီ ဂေါ်ဒန်ကျောက် ဖြစ်ရပါမည်။

(၅) ဂေါ်ဒန်ကျောက် အရည်အသွေးသတ်မှတ်ချက်မှာ Moisture Content < 15% နှင့် Purity of $CaSO_4 2H_2O$ < 90% ဖြစ်ရပါမည်။

(၆) သတ်မှတ်အရည်အသွေးမှီ ဂေါ်ဒန်ကျောက်များကို ရောင်းချသူ လေဒီမြင့်နှင့်သားများ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ဘားအံစက်မှုဇုန်သို့ ပို့ဆောင်ပေးရမည်။

(၇) ဘားအံစက်မှုဇုန်မှ ဂေါ်ဒန်ကျောက်များကို ဝယ်ယူသူမှ စက်ရုံအရောက် တာဝန်ယူပို့ဆောင် ချိန်တွယ်၍ စက်ရုံ၏သတ်မှတ်အလေးချိန်အတိုင်း လေဒီမြင့်နှင့်သားများ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ သတ်မှတ်တန်ဖိုးဖြင့် ငွေပေးချေရပါမည်။

(၈) ဈေးနှုန်းသတ်မှတ်ချက်မှာ တစ်တန်လျှင် (၄၃၀၀၀) ကျပ်ဖြစ်ပြီး ငွေပေးချေမှု စနစ်ကို ထပ်မံညှိနှိုင်း၍ စာချုပ်ချုပ်ဆိုပါမည်။

အထက်ပါ စည်းကမ်းချက်များကို နှစ်ဖက်ညှိနှိုင်းသဘောတူပြီး သိရှိနားလည်ကြပြီးဖြစ်သည့်အတွက် အောက်ပါ အသိသက်သေများရှေ့တွင် ဤဂေါ်ဒန်ကျောက်ရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူ နားလည်မှု စာချွန်လွှာကို လက်မှတ် ရေးထိုးချုပ်ဆိုကြပါသည်။

(ဝယ်ယူသူ) (ရောင်းချသူ)

ဦးတင်လှိုင်
ဒု-အထွေထွေမန်နေဂျာ (MKCG)

ဒေါ်လေဒီမြင့်(MD)
လေဒီမြင့်နှင့်သားများစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

အသိသက်သေများ

၁။

၂။

# မြေစေးရောင်းဝယ်မှု လုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချွန်လွှာ

----------------- ခုနှစ်၊ ----------------- ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အမှတ်(၇၀၇)(B)၊ ပုလဲကွန်ဒို ၊ ကမ္ဘာအေးဘုရားလမ်းရှိ မြန်မာ-ကိုးရီးယား ဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက် (MKCG) မှဝယ်ယူသူအဖြစ်လည်းကောင်း ၊ မော်လမြိုင်မြို့၊ အမှတ်(၇၆)၊ အထက်လမ်းမကြီး၊ ပန်းဘဲတန်းရပ်ရှိ "စုန်ရေ"ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ရောင်းချသူအဖြစ်လည်းကောင်း၊ မြေစေးရောင်းဝယ်မှု လုပ်ငန်းအတွက် နှစ်ဖက်သဘောတူနားလည်မှု စာချွန်လွှာကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့် လက်မှတ်ရေးထိုးကြပါသည်-

(၁) ဝယ်ယူမည့် မြန်မာ-ကိုးရီးယား ဘိလပ်မြေအုပ်စုကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ် ၊ နီးဒုံးတောင်ဒေသတွင် ဆောက်လုပ်မည့် တစ်ရက်တန်ချိန်(၃၀၀၀)ကျ ဘိလပ်မြေစက်ရုံ အတွက် ကုန်ကြမ်းအဖြစ် ဝယ်ယူမည်ဖြစ်ပါသည်။

(၂) မြေစေး ဝယ်ယူမည့် တန်ချိန်မှာနှစ်စဉ် (၂၃၄၀၀၀) တန်ဖြစ်ပါသည်။

(၃) ဝယ်ယူမည့်ကာလမှာ ၂၀၁၇-၂၀၁၈ ပွင့်လင်းရာသီအတွင်းမှ စတင်၍ ၂၀၁၉-၂၀၂၂ ခုနှစ်အထိ ဖြစ်ပါသည်။

(၄) အရည်အသွေး ပြည့်မီသည့် မြေစေးဖြစ်ရပါမည်။

(၅) သတ်မှတ်အရည်အသွေးမီ မြေစေးများကို ရောင်းချသူ "စုန်ရေ" ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ နီးဒုံးတောင် ဘိလပ်မြေစက်ရုံ အတွတ်ရုံမြစ်ဆိပ်ကမ်းသို့ အရောက်ပို့ ဆောင်ပေးရပါမည်။

(၆) နီးဒုံးတောင်ဘိလပ်မြေစက်ရုံ အတွတ်ရုံမြစ်ဆိပ်ကမ်းမှ မြေစေးများကို ဝယ်ယူသူမှ စက်ရုံအရောက် တာဝန်ယူ ပို့ဆောင် ချိန်တွယ်၍ စက်ရုံ၏ သတ်မှတ်အလေးချိန်အတိုင်း "စုန်ရေ" ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်သို့ သတ်မှတ်တန်ဖိုးဖြင့် ငွေပေးချေရမည်။

(၇) ဈေးနှုန်းသတ်မှတ်ချက်မှာ မြေစေးတစ်တန်လျှင် (သယ်ပို့ခမပါ) (၁၂၅၀/-) ကျပ်ဖြစ်ပြီး ငွေပေးချေမှု စနစ်ကို ထပ်မံညှိနှိုင်း၍ စာချုပ်ချုပ်ဆိုပါမည်။

အထက်ပါ စည်းကမ်းချက်များကို နှစ်ဖက်ညှိနှိုင်းသဘောတူပြီး သိရှိနားလည်ကြပြီးဖြစ်သည့်အတွက် အောက်ပါ အသိသက်သေများရှေ့တွင် မြေစေးရောင်းဝယ်မှုလုပ်ငန်းအတွက် နှစ်ဖက်သဘောတူ နားလည်မှု စာချွန်လွှာကို လက်မှတ် ရေးထိုးချုပ်ဆိုကြပါသည်။

| (ဝယ်ယူသူ) | (ရောင်းချသူ) |
|---|---|
| ဦးစိုးသီဟ | ဦးမိုးကျော် |
| အထွေထွေမန်နေဂျာ (MKCG) | အုပ်ချုပ်မှုဒါရိုက်တာ |
| | "စုန်ရေ" ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

အသိသက်သေများ

၁။ ၂။

# ZAYKABAR Company Limited

No.(1) MINGALARDON GARDEN CITY, HIGHWAY No.(3) MINGALARDON TOWNSHIP, YANGON, MYANMAR.
TEL : (951) 639303, 639304, 639305, 639306 Email : zaykabar.coltd@gmail.com Fax : (951) 639395


စာအမှတ် ။ ZKB / စီမံ-၁ / ၀၀၃ /၀၈၅ (ဘိလပ်မြေ) ၂၀၁၆။
ရက်စွဲ ။ ၂၀၁၆ခုနှစ်၊ နိုဝင်ဘာလ၊ (၂၉) ရက် ။

သို့

ပြည်ထောင်စုဝန်ကြီး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး
ဝန်ကြီးဌာန
ရုံးအမှတ် (၂၈)
နေပြည်တော်

အကြောင်းအရာ ။ ။ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသ၊ ဘိလပ်မြေစီမံကိန်းအတွက် လိုအပ်သောမြေစေးကုန်ကြမ်းတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန်။

ရည်ညွှန်းချက်(၁)။ ။အမှတ် (၃) သတ္တုတွင်းလုပ်ငန်း၏ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ (၂၀) ရက်စွဲပါစာအမှတ် ၄၃၆/ ၁၈၄/ စမ - ၁၉/၁ (မြန်မာ့စွမ်းပကား)/ ၂၀၁၂။ ပူးတွဲ - (၅)

၁။ အထက်ပါကိစ္စနှင့် ပတ်သက်၍ ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် အုပ်စုခွဲကုမ္ပဏီဖြစ်သည့် မြန်မာစွမ်းပကားစက်မှုကုမ္ပဏီလီမိတက်နှင့် ပူးပေါင်း၍ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ နီးဒုံးတောင်ဒေသတွင် အခြောက်ခံနည်းစဉ် (Dry Process) ဖြင့် တစ်ရက်လျှင် ကလင်ကာတန် (၃၀၀၀) / ဘိလပ်မြေတန် (၃၁၅၀) ထွက်ရှိမည့် ဘိလပ်မြေစက်ရုံစီမံကိန်းကို၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် (၂၀၁၁) ခုနှစ်၊ ဒီဇင်ဘာလ (၁၆) ရက်နေ့ကတည်းက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စာအမှတ် ZKBI/ စီမံ-၁/ ၀၀၃/ ၀၁၂ (ဘိလပ်မြေ) ၂၀၁၁ ဖြင့် လျှောက်ထားခဲ့ပါသည်။ အဆိုပါလျှောက်ထားစဉ်ကပင် ကုန်ကြမ်းပစ္စည်းများအဖြစ် ရှာဖွေ စမ်းသပ်တိုင်းတာတွေ့ရှိပြီးဖြစ်သော နီးဒုံးတောင်ထုံးကျောက်သိုက်မှ (သ - ၂) အဆင့်ထုံးကျောက် (၁၁၄) သန်း(မက်)တန်၊ နီးဒုံးတောင်ဒေသ စပယ်ဂူချောင်းမှ (သ - ၂) အဆင့်မြေစေး (၉.၂) သန်း (မက်) တန်၊ နီးဒုံးတောင်ဒေသ၏ (၅) မိုင်ဝန်းကျင်ရှိ ပျဉ်းကတိုးကုန်း၊ သရက်ကုန်း၊ ထုံးဖိုကုန်း၊ ဥတိုဒေသတို့မှ (သ - ၃) အဆင့်ရှိ ဂဝံသံ (၆.၈၄) သန်း (မက်)တန် ၊ သံလွင်မြစ်အတွင်းမှ သဲ (၁.၀၄) သန်း(မက်)တန်နှင့် ယခင်အမှတ် (၃) သတ္တုတွင်း လက်အောက်ရှိ သီပေါဂေါဒန်မိုင်းမှ လိုအပ်သော ဂေါဒန်ကို ဝယ်ယူအသုံးပြုမည် ဖြစ်ပါကြောင်း အစီရင်ခံတင်ပြခဲ့ပါသည်။

၂။ ၂၀၁၃ ခုနှစ်တွင် နိုင်ငံခြားကုမ္ပဏီတစ်ခုဖြစ်သော MISAN International Co: Ltd နှင့်အကျိုးတူပူးပေါင်း၍ (Joint Venture Co:) ထူထောင်ပြီး ဘိလပ်မြေစီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်လိုသဖြင့် (၂၅.၃.၂၀၁၃) ရက်နေ့တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအနေဖြင့် မူလတင်ပြခဲ့သော အဆိုပြုချက်ကို ပြန်လည်ရုပ်သိမ်းခွင့်တင်ပြခဲ့ရာ (၉.၄.၂၀၁၃) ရက်နေ့တွင် စာအမှတ် ၇က-၆(က)/မ-၁၂၁၀/၂၀၁၃ (၄၆၆၄-၄)၊ဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရုပ်သိမ်းခွင့်ပြုခဲ့ပါသည်။

၃။ ယခုအခါဇေကမ္ဘာကုမ္ပဏီလီမိတက်၊ မြန်မာစွမ်းပကားစက်မှုကုမ္ပဏီလီမိတက်နှင့် MISAN International Co: Ltd တို့သည် အကျိုးတူပူးပေါင်း၍Myanmar-Korea Cement Group Co:Ltd (MKCG)အမည်ဖြင့် Joint Venture Co: ထူထောင်ပြီး မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ ဘိလပ်မြေစက်ရုံစီမံကိန်းအဆိုပြုချက်ကို (၂၀၁၆)ခုနှစ်၊ အောက်တိုဘာလ (၁၈)ရက်နေ့တွင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ပြန်လည်တင်ပြခဲ့ရာ (၂၀၁၆)ခုနှစ်၊ နိုဝင်ဘာလ (၇) ရက်နေ့တွင် ပဏာမအဆင့် အဆိုပြုချက်စိစစ်ရေးကော်မရှင်အဖွဲ့ဝင်များ (Primary Assessment Team) နှင့် တွေ့ဆုံပွဲ ပြုလုပ်ခဲ့ပြီး အဆိုပြုချက်စိစစ်ရေးကော်မရှင်အဖွဲ့မှ (၂၀၁၆) ခုနှစ်၊ နိုဝင်ဘာလ (၈) ရက် နေ့ရက်စွဲပါ စာအမှတ် မရက-၃/န-၁၄၀၉/၂၀၁၆ (၁၄၃၀) ဖြင့် အဆိုပြုချက်ကို လက်ခံခဲ့ကြောင်း ပြန်ကြားခဲ့ပါသည်။

၄။ အဆိုပါပဏာမအဆင့်ကော်မရှင်အဖွဲ့ဝင်များနှင့် တွေ့ဆုံပွဲတွင် အမှတ် (၁) သတ္တုတွင်းကိုယ်စားလှယ်မှ ဘိလပ်မြေစီမံကိန်းအတွက် လိုအပ်သော ကုန်ကြမ်းအားတူးဖော်ထုတ်လုပ်ခွင့်အား ပြည်ထောင်စုဝန်ကြီးဌာနသို့တင်ပြလျှောက်ထားရန် လိုအပ်ကြောင်း ညွှန်ကြားခဲ့ပါသည်။

၅။ သို့ပါ၍မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသဘိလပ်မြေစက်ရုံစီမံကိန်းအတွက် လိုအပ်သောမြေစေးကို ဇဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ လယ်မြေအားအခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုထားသည့် လယ်မြေ (၃၇၀.၉၀) ဧကအတွင်းရှိ (၁၆၀.၈) ဧကခန့်ကျယ်ဝန်းသော နီးဒုံးတောင်ခြေရှိ စပယ်ဂူချောင်းမြေစေးသိုက် (မြေပုံညွှန်း 94.H/15-S.400835) မှ တူးဖော်ထုတ်လုပ်ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီနှင့် ပတ်သက်၍ အသေးစိတ်အချက်အလက်များပါရှိသော ဓါတ်သတ္တု(မြေစေး)တူးဖော်ထုတ်လုပ်ရန် ခွင့်ပြုမိန့် လျှောက်လွှာ ပုံစံ၊ မြေစေးစမ်းသပ်တိုင်းတာရေးလုပ်ငန်း အစီရင်ခံစာ၊ မြေစေးသိုက်၏မြေစာရင်းပုံစံ (၁၅) နှင့် တည်နေရာပြပုံ တို့အား ပူးတွဲအစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာခင်ရွှေ
ဥက္ကဋ္ဌ
ဇေကမ္ဘာကုမ္ပဏီလီမိတက်

(ပူးတွဲများ) ၁။ Geological Exploration Report on Clay Deposit, Sabegu Chaung Block, Hnidon Taung Area, Kyaike Mayaw Township, Mon State.
၂။ စပယ်ဂူချောင်းမြေစေးသိုက်၏တည်နေရာပြပုံ

၃။ စပယ်ဂူချောင်းမြေစေးသိုက်၏မြေစာရင်းပုံစံ (၁၅)

၄။ မြေစေးတူးဖော်ထုတ်လုပ်ခွင့်လျှောက်ထားခြင်းပုံစံ

၅။ အမှတ် (၃) သတ္တုတွင်းလုပ်ငန်း၏ (၂၀.၁.၂၀၁၂) ရက်စွဲပါ စာအမှတ် ၄၃၆ /၁၈၄ / စမ -၁၉ /၁ (မြန်မာစွမ်းပကား) / ၂၀၁၂ဖြင့် မြေစေးသိုက်၏တန်ချိန်ပမာဏအားစိစစ် ပြန်ကြားခြင်း။

မိတ္တူ။

၁။ အမြဲတမ်းအတွင်းဝန် (သတ္တုတွင်း)
ရုံးအမှတ် (၁၉)၊ နေပြည်တော်။

၂။ ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ် (၁) သတ္တုတွင်းလုပ်ငန်း
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး
နေပြည်တော်

၃။ ညွှန်ကြားရေးမှူးချုပ်
သတ္တုတွင်းဦးစီးဌာန၊ နေပြည်တော်။

၄။ ညွှန်ကြားရေးမှူးချုပ်
ဘ.ခ.ရ၊ နေပြည်တော်။

၅။ ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
အမှတ်(၃)သတ္တုတွင်းလုပ်ငန်း
နေပြည်တော်

စာအမှတ်၊ ၄၃၆ / ၁၈၄ /စမ-၁၉/၁(မြန်မာ့စွမ်းပကား)/၂၀၁၂
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏစိစစ်ပြန်ကြားခြင်း။**

ရည် ညွှန်း ချက် ။ (၁) ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာန၏ ၁၀.၁.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၁၄၉/၀၅၅/ဘစမ/၂၀၁၂

(၂) ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ ၁၆.၁၂.၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ZKBI/စီမံ-၁/၀၀၃/၀၁၄(ဘိလပ်မြေ)/၂၀၁၁

၁။ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နှီးဖုံးတောင်ဒေသ ဘိလပ်မြေစက်ရုံစီမံကိန်းအတွက် လိုအပ်သော မြေစေး စမ်းသပ်တိုင်းတာရေး အစီရင်ခံစာအား ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တင်ပြလာမှုအပေါ် ဘူမိဗေဒ လေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာန၏ ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ မြေပြင်ကွင်းဆင်းစစ်ဆေးနိုင်ခြင်း မရှိသော်လည်းကုမ္ပဏီသည် လုံလောက်သော အစမ်းတွင်းများ တူးဖော် ထားခြင်း၊ နမူနာအလုံအလောက်ရယူ ဓာတ်ခွဲစမ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာတင်ပြ ထားခြင်း၊ တန်ချိန်တွက်ချက်ပုံနည်းစနစ် မှန်ကန်ခြင်းတို့ ကြောင့် အဆိုပြုလုပ်ကွက်၏ ပျမ်းမျှ $Al_2O_3$. ၁၆.၇၃ %၊ $Fe_2O_3$ ၇.၇၀% နှင့် $SiO_2$- ၅၅.၈၁ % ပါဝင်သော (သ-၂) အဆင့် မြေစေးတန်ချိန် ၉.၂ သန်းတန်သည် တန်ချိန်အားဖြင့် များနေသော်လည်း တွက်ချက်မှုများအရ လက်ခံနိုင်ဖွယ်ရှိကြောင်း ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာနမှ ပြန်ကြားလာမှုအား သိရှိနိုင်ပါရန် အကြောင်းကြားပါသည်။

ခေတ္တဦးဆောင်ညွှန်ကြားရေးမှူး( )

စန်းလွင်၊ ညွှန်ကြားရေးမှူး

E/Planning TWL. M(1).

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
အမှတ်(၃)သတ္တုတွင်းလုပ်ငန်း
နေပြည်တော်

စာအမှတ်၊ ၄၃၅ / ၁၈၅ /စမ-၁၉/၁(မြန်မာ့ဓမ်းပကား)/၂၀၁၂
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

သို့

✓ ဥက္ကဋ္ဌ

ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏစိစစ်ပြန်ကြားခြင်း။**

ရည် ညွှန်း ချက် ။ (၁) ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာန၏ ၁၀.၁.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၁၄၄/၀၅၁/ဘစမ/၂၀၁၂

(၂) ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ ၁၆.၁၂.၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ZKBI/စီမံ- ၁/၀၀၃/၀၁၃(ဘီလပ်မြေ)/၂၀၁၁

၁။ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နှီးဒုံးတောင်ဒေသ ပျဉ်းကတိုးကုန်းလုပ်ကွက်၊ သရက်ကုန်းလုပ်ကွက်၊ ထုံးဖိုကုန်းလုပ်ကွက်နှင့် ဥတိုလုပ်ကွက်များတွင် ဆောင်ရွက်ခဲ့သော ဂဝံသံကျောက်စမ်းသပ်တိုင်းတာရေး အစီရင်ခံစာအား ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တင်ပြလာမှုအပေါ် ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာန၏ ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ မြေပြင်ကွင်းဆင်းစစ်ဆေးနိုင်ခြင်း မရှိသော်လည်းကုမ္ပဏီသည် လုံလောက်သော အစမ်းတွင်းများ တူးဖော်ထားခြင်း၊ နမူနာအလုံအလောက်ရယူ ဓာတ်ခွဲစမ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာတင်ပြထားခြင်း၊ တန်ချိန်တွက်ချက်ပုံနည်းစနစ် မှန်ကန်ခြင်းတို့ကြောင့် ပျဉ်းကတိုးကုန်းလုပ်ကွက်၊ သရက်ကုန်းလုပ်ကွက်၊ ထုံးဖိုကုန်းလုပ်ကွက်နှင့် ဥတိုလုပ်ကွက်တို့၏ ပျမ်းမျှ $Fe_2O_3$ ၂၅.၅၅% မှ ၃၀.၈၄ % ပါဝင်သော (သ-၃)အဆင့် ဂဝံသံကျောက် မက်ထရစ်တန်ချိန် ၆.၈၄ သန်းတန်သည် လက်ခံနိုင်ဖွယ်ရှိကြောင်း ဘူမိဗေဒလေ့လာရေးနှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာနမှ ပြန်ကြားလာမှုအား သိရှိနိုင်ပါရန် အကြောင်းကြားပါသည်။

ခေတ္တဦးဆောင်ညွှန်ကြားရေးမှူး ( )
စန်းလွင် ၊ ညွှန်ကြားရေးမှူး

E/Planning TWL M(1)

# မြန်မာ - ကိုရီးယား ဘိလပ်မြေအုပ်စု ကုမ္ပဏီလီမိတက် (MKCG) ၏ တစ်ရက်တန် (၃၀၀၀) ကျဘိလပ်မြေစက်ရုံ တည်ဆောက်လိုခြင်းအတွက် ကုန်ကြမ်းနှင့် စွမ်းအင်လောင်စာရရှိနိုင်မှုအခြေအနေ

၁။ ကုန်ကြမ်းရရှိနိုင်မှုအခြေအနေ

| စဉ် | ကုန်ကြမ်း အမျိုးအစား | (၁) နှစ် လိုအပ်ချက် (တန်) | ဒေသ | မြေဧရိယာ (ဧက) | တန်ချိန်ပမာဏ နှင့် အရည် အသွေး | စာချုပ် သက်တမ်း |
|---|---|---|---|---|---|---|
| (က) | ထုံးကျောက် | ၁,၀၈၀,၀၀၀ | မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ နီးဒုံးတောင်ဒေသ | ၂၁၈ | (သ-၂)အဆင့် ၁၁၄ သန်း CaO - ၅၄.၁၉% MgO - ၀.၄၉% $SiO_2$-၀.၅၉% | (၁၀) နှစ် |
| (ခ) | မြေစေး | ၁၃၄,၀၀၀ | မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ်၊ နိတုံကျေးရွာအုပ်စု၊ နီးဒုံးတောင်ဒေသ | ၁၆၀.၈၄ | (သ-၂) အဆင့် ၉.၂သန်း $AL_2O_3$ - ၁၅.၉၄% $Fe_2O_3$ - ၇.၃% $SiO_2$ - ၅၄.၅၆% | (၁၀) နှစ် |
| (ဂ) | ဂဝံသံကျောက် | ၂၇,၀၀၀ | မွန်ပြည်နယ်၊ ကျိုက်မရော မြို့နယ်၊ ငပြေမကျေးရွာ၊ ရွှေကျောက်အိုင်ကုမ္ပဏီ လီမိတက်မှ ဝယ်ယူသုံးစွဲပါ မည်။ | | | နှစ်ဖက် သဘောတူ နားလည်မှု စာချွန်လွှာ |
| (ဃ) | သဲ | ၄၅,၀၀၀ | မွန်ပြည်နယ်၊ မော်လမြိုင်မြို့ နယ်၊ မန္တလေးရပ်ကွက်ရှိ ထွန်း(သဲ+ကျောက်)ရောင်း ဝယ်ရေးကုမ္ပဏီလီမိတက်မှ ဝယ်ယူသုံးစွဲပါမည်။ | | | နှစ်ဖက် သဘောတူ နားလည်မှု စာချွန်လွှာ |
| (င) | ဂေါ်ဒန် | ၄၅,၀၀၀ | ကရင်ပြည်နယ်၊ ဘားအံမြို့ အမှတ် (၁/၃၈၂) ဆင်းသီရိ လမ်း၊ (၁) ရပ်ကွက်ရှိ လေဒီမြင့်နှင့်သားများ စက်မှုကုမ္ပဏီ လီမိတက်မှ ဝယ်ယူသုံးစွဲပါမည်။ | | | နှစ်ဖက် သဘောတူ နားလည်မှု စာချွန်လွှာ |

၂။ စွမ်းအင်လောင်စာရရှိနိုင်မှုအခြေအနေ

| စဉ် | ကုန်ကြမ်းအမျိုးအစား | (၁) နှစ်လိုအပ်ချက် (တန်) | ဒေသ | မြေဧရိယာ (ဧက) | တန်ချိန်ပမာဏနှင့် အရည်အသွေး | စာချုပ်သက်တမ်း |
|---|---|---|---|---|---|---|
| (က) | ကျောက်မီးသွေး | ၁၂၀,၀၀၀ | စစ်ကိုင်းတိုင်းဒေသကြီး ကလေးဝဒေသမှဝယ်ယူသုံးစွဲပါမည်။ ရန်ကုန်မြို့အမှတ် (၇၀၆-ခ) ကုန်းဘောင် (၁၆) လမ်း၊ (၆) ရက်ကွက်ရှိပြည့်စုံဖြိုးကုမ္ပဏီ၏ ကလေးဝမြို့နယ် ကျောက်အုံဒေသထွက် ကျောက်မီးသွေးကို ဝယ်ယူအသုံးပြုပါမည်။ | | နှစ်စဉ် ၁၂၀,၀၀၀ တန် (Sub-Bituminus) KCal / kg 6440 F.C 49.24 V.M 46.20 Ash 3.35 Free $H_2O$ 12.50 (Industrial Analysis) Results | နှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာ |

**ZAYKABAR Company Limited**

No.(1) MINGALARDON GARDEN CITY, HIGHWAY No.(3) MINGALARDON TOWNSHIP, YANGON, MYANMAR.
TEL : (951) 639303, 639304, 639305, 639306 Email : zaykabar.coltd@gmail.com Fax : (951) 639395

စာအမှတ် ။ ZKB / စီမံ-၁ / ၀၀၃ / ၀၈၆(ဘိလပ်မြေ) ၂၀၁၆။
ရက်စွဲ ။ ၂၀၁၆ခုနှစ်၊ နိုဝင်ဘာလ၊ (၂၉) ရက် ။

သို့

ပြည်ထောင်စုဝန်ကြီး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး
ဝန်ကြီးဌာန
ရုံးအမှတ် (၂၈)
နေပြည်တော်

အကြောင်းအရာ ။ ။ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသ၊ ဘိလပ်မြေစီမံကိန်းအတွက် လိုအပ်သောဂေါ်တန်၊ ဂဝံ(သံ)နှင့်သဲစသောကုန်ကြမ်းများကိုဝယ်ယူအသုံးပြုခွင့်ပြုပါရန် တင်ပြခြင်း၊

၁။ အထက်ပါကိစ္စနှင့်ပတ်သက်၍ဇေကမ္ဘာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် နှင့် မြန်မာစွမ်းပကားကုမ္ပဏီ လီမိတက်တို့သည်၊ ကိုရီးယားသမ္မတနိုင်ငံမှ MISAN International Co: Ltd နှင့် အကျိုးတူပူးပေါင်း၍ Myanmar - Korea Cement Group Co: Ltd (MKCG)အမည်ဖြင့် Joint Venture Co: ထူထောင်ပြီး၊ မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ်၊ နီးဒုံးတောင်ဒေသဘိလပ်မြေစက်ရုံစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် အဆိုပြုချက်ကို (၂၀၁၆) ခုနှစ် နိုဝင်ဘာလ (၁) ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါသည်။

၂။ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ (၇) ရက်နေ့တွင် ပဏာမအဆင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့ (Primary Assessment Team) ၏ ၄၁/၂၀၁၆ အစည်းအဝေးမှ ဖြည့်စွက်ပြင်ဆင်ရမည့် အချက်တို့ကို ၂၀၁၆ ခုနှစ် နိုဝင်ဘာလ (၈)ရက် နေ့စွဲပါ စာအမှတ် မရဘ - ၃/န - ၁၄၀၉/ ၂၀၁၆ (၁၄၃၀) ဖြင့် အကြောင်းကြားခဲ့ပါသည်။ အဆိုပါ အကြောင်းကြားစာ၏စာပိုဒ်၁/ (က) တွင်၊ ဘိလပ်မြေထုတ်လုပ်ရန်လိုအပ်သော ကုန်ကြမ်းများ၏တူးဖော်ထုတ်လုပ်ခွင့်ပြုမိန့် (မိတ္တူ) နှင့် နှစ်အလိုက်သုံးစွဲမှုအား တင်ပြရန်ညွှန်ကြားခဲ့ပါသည်။ ထုံးကျောက်ကုန်ကြမ်းကိုမူ အမှတ် (၃) သတ္တုတွင်းလုပ်ငန်းနှင့် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် အကြီးစားထုတ်လုပ်မှုကို ၂၀၁၂ ခုနှစ် နိုဝင်ဘာလမှ စတင်၍ (၂၀၁၆) ခုနှစ် စက်တင်ဘာလအထိ စုစုပေါင်း ထုံးကျောက်တန်ချိန် (၂၆၆၆၀၀) ထုတ်လုပ်ခဲ့ပြီး ထုတ်လုပ်မှုအပေါ်ခွဲဝေမည့်အချိုး (၃၀%) နှင့် သတ္တုခွန် (၃%) အတွက် ကျသင့်ငွေစုစုပေါင်း

(၁၀၁,၅၉၀,၀၈၀ိ / -) (ကျပ်တစ်ထောင့်တစ်ဆယ့်ငါးသိန်းကိုးသောင်းရှစ်ဆယ်တိတိ) ကိုအမှတ် (၁) သတ္တုတွင်းလုပ်ငန်းနှင့် သတ္တုတွင်းဦးစီးဌာနသို့ တာဝန်ကျေပေးသွင်းပြီးဖြစ်ပါသည်။

၃။ ကျန်ကုန်ကြမ်းအမျိုးအစားများ၏ နယ်မြေအခြေအနေနှင့် ကုန်ကြမ်းသိုက်များတည်ရှိသည့် ခရီးအကွာအဝေး၊ လမ်းပန်းဆက်သွယ်ရေးအခက်အခဲနှင့် ထုတ်လုပ်မှုကုန်ကျစရိတ်တို့အပေါ် အခြေခံလျက် ရင်းနှီးမြှုပ်နှံမှုနှင့် ထုတ်လုပ်မှုကုန်ကျစရိတ် များလျော့နည်းသက်သာစေရန်ရည်ရွယ်လျက် အထက်ဖော်ပြပါ ကုန်ကြမ်းများဖြစ်သော - ဂေါ်ဒန်၊ ဂဝံ(သံ)နှင့် သဲစသော ကုန်ကြမ်း (၃) မျိုးကို ဌာနေထုတ်လုပ်ရေးကုမ္ပဏီ (၃) ခုထံမှ ဝယ်ယူနိုင်ရေးညှိနှိုင်းခဲ့ရာ ကုန်ကြမ်းများ အတွက်နှစ်စဉ် လိုအပ်သော ပမာဏကို ထုတ်လုပ်ပေး နိုင်ကြောင်း ညှိနှိုင်းသိရှိရသဖြင့် သက်ဆိုင်ရာ ထုတ်လုပ် ရေး ကုမ္ပဏီများနှင့် နားလည်မှုစာချွန်လွှာများ ရေးထိုးခဲ့ပါသည်။ ကုန်ကြမ်းများ၏နှစ်စဉ်လိုအပ်ချက်မှာ ပျမ်းမျှဂေါ်ဒန်/ ၄၂၈၄၀ (တန်)၊ ဂဝံသံ/ ၂၇၀၀၀ (တန်) နှင့် သဲ/ ၄၅၀၀၀ (တန်) တို့ဖြစ်ပါသည်။ လိုအပ်သော ကျောက်မီးသွေးကိုမူ ကလေးဝမြို့နယ်၊ မြစ်သာမြစ်ကမ်း ဘေးရှိ ကျောက်မီးသွေးတူးဖော်ထုတ်လုပ်နေသောကုမ္ပဏီထံမှ တစ်နှစ်လျှင် တန်ချိန် (၁၂၀,၀၀၀) ခန့်ဝယ်ယူ မည်ဖြစ်ပါသည်။

၄။ သို့ပါ၍ Myanamr- Korea Cement Group Co: Ltd (MKCG) ကုမ္ပဏီအနေနှင့် ကုန်ကြမ်းများအား လတ်တလောတူးဖော်ထုတ်လုပ်ခြင်း မပြုနိုင်သေးမီ၊ ဒေသခံထုတ်လုပ်ရေးကုမ္ပဏီများထံမှ ဝယ်ယူအသုံးပြု ခြင်းအား ခွင့်ပြုနိုင်ပါရန် သက်ဆိုင်ရာဒေသခံကုမ္ပဏီများနှင့် ရေးထိုးခဲ့သော စာချွန်လွှာများကို ပူးတွဲလျက်တင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာခင်ရွှေ
ဥက္ကဋ္ဌ
ဇေကမ္ဘာကုမ္ပဏီလီမိတက်
(Director, Myanmar - Korea
Cement Group Co: Ltd )

ပူးတွဲ - (၁) ဂေါ်ဒန်ကျောက်ရောင်းဝယ်မှုလုပ်ငန်းနှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာ။
ပူးတွဲ - (၂) ဂဝံကျောက်ရောင်းဝယ်မှုလုပ်ငန်းနှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာ။
ပူးတွဲ - (၃) သဲရောင်းဝယ်မှုလုပ်ငန်းနှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာ။
ပူးတွဲ - (၄) ကျောက်မီးသွေးရောင်းဝယ်မှုလုပ်ငန်း နှစ်ဖက်သဘောတူနားလည်မှုစာချွန်လွှာ။

မိတ္တူ။

၁။ အမြဲတမ်းအတွင်းဝန် (သတ္တုတွင်း)
ရုံးအမှတ် (၁၉)၊ နေပြည်တော်။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ 011362

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ-ကိုရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

◆◆◆◆

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

**MYANMAR-KOREA CEMENT GROUP COMPANY LIMITED**

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ-ကိုရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏အမည်သည် မြန်မာ-ကိုရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် US$ ၁၀၀,၀၀၀,၀၀၀ /-( ကျပ် အမေရိကန် ဒေါ်လာ သန်းတစ်ရာ တိတိ ) ဖြစ်၍ငွေကျပ် US$ ၅ /-( ကျပ် အမေရိကန် ဒေါ်လာ ငါး တိတိ ) တန် အစုရှယ်ယာပေါင်း ( ၂၀,၀၀၀,၀၀၀ ) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

(၁) ဘိလပ်မြေ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း၊

(၂) ၎င်းနှင့်ဆက်စပ်နေသောလုပ်ငန်းများ။

၇။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည့်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Misan International Co., Ltd.<br>Gongdeok BD 1244, 11,<br>Saechang-ro, Mapo-gu,<br>Seoul, Korea<br>Represented by:<br>Mr. Kim, Jihoon<br>902-906, 80, Ilsanseo-gu,<br>Goyang-si, Gyeonggi-do, Korea | Incorporated in<br>Korea<br>Reg No.<br>110111-4585323<br><br>Korean<br>P.P.No.<br>M74458002 | 8,400,000 shares | |
| ၂။ | Zaykabar Co., Ltd.<br>No. (1), Mingalardon Garden City,<br>No. (3) Highway Road,<br>Mingalardon Township, Yangon.<br>Represented by:<br>Dr. Khin Shwe<br>77-F, University Avenue Road,<br>Bahan Township, Yangon | Incorporated in<br>Myanmar<br>Reg No.<br>268/1990-1991<br><br>Myanmar<br>12/Ba Ha Na (N)<br>055373 | 1,800,000 shares | |
| ၃။ | Myanmar Might Industrial Co., Ltd.<br>No. (163), Kha Yae Avenue,<br>Mingalardon Garden City,<br>Mingalardon Township, Yangon<br>Represented by:<br>U Toe Naing Mann<br>No.(B-2), Palm Court Villa,<br>Minghamma Road,<br>Mayangone Township,<br>Yangon | Incorporated in<br>Myanmar<br>Reg No.<br>1339/2008-2009<br><br>Myanmar<br>7/Tha Ka Na (N)<br>078843 | 1,800,000 shares | |

ရန်ကုန်၊ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ-ကိုရီးယားဘိလပ်မြေအုပ်စု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက် ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများအက် ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သက်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့ (မ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် အမေရိကန် ဒေါ်လာ ၁၀၀,၀၀၀,၀၀၀/- (ကျပ် အမေရိကန် ဒေါ်လာ သန်းတစ်ရာ တိတိ) ဖြစ်၍ ငွေ ကျပ် အမေရိကန် ဒေါ်လာ ၅ /- (ကျပ် အမေရိကန် ဒေါ်လာ ငါး တိတိ) တန် အစုရှယ်ယာပေါင်း ( ၂၀,၀၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာကုမ္ပဏီများ အက်ဥပဒေ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) Mr.Kim Jihoon
(၂) Mr.Kim Kwang Chull
(၃) Mr. WEON SEON HEE
(၄) Ms.Kim Min Kyoung
(၅) U Lwin Aung Moe
(6) Mr.Lee Jae Yoon
(7) Mr.Song Jin Wook
(8) Dr.Khin Shwe
(9) U Zay Thiha
(10) U Toe Naing Mann

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (-)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲ တမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်း ကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့ အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖❖❖❖❖❖❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊<br>နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Misan International Co., Ltd.<br>Gongdeok BD 1244, 11,<br>Saechang-ro, Mapo-gu,<br>Seoul, Korea<br>Represented by:<br>Mr. Kim, Jihoon<br>902-906, 80, Ilsanseo-gu,<br>Goyang-si, Gyeonggi-do, Korea | Incorporated in<br>Korea<br>Reg No.<br>110111-4585323<br><br>Korean<br>P.P.No.<br>M74458002 | 8,400,000 shares | |
| ၂။ | Zaykabar Co., Ltd.<br>No. (1), Mingalardon Garden City,<br>No. (3) Highway Road,<br>Mingalardon Township, Yangon.<br>Represented by:<br>Dr. Khin Shwe<br>77-F, University Avenue Road,<br>Bahan Township, Yangon | Incorporated in<br>Myanmar<br>Reg No.<br>268/1990-1991<br><br>Myanmar<br>12/Ba Ha Na (N)<br>055373 | 1,800,000 shares | |
| ၃။ | Myanmar Might Industrial Co., Ltd.<br>No. (163), Kha Yae Avenue,<br>Mingalardon Garden City,<br>Mingalardon Township, Yangon<br>Represented by:<br>U Toe Naing Mann<br>No.(B-2), Palm Court Villa,<br>Minghamma Road,<br>Mayangone Township,<br>Yangon | Incorporated in<br>Myanmar<br>Reg No.<br>1339/2008-2009<br><br>Myanmar<br>7/Tha Ka Na (N)<br>078843 | 1,800,000 shares | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

**OF**

# MYANMAR-KOREA CEMENT GROUP COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is MYANMAR-KOREA CEMENT GROUP COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is US$ 100,000,000/ - (United States Dollars One Hundred Millions Only) divided into ( 20,000,000 ) shares of US$ 5/ - (United States Dollars Five Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**6. The Objective For Which The company is established are**

(i) Manufacturing and selling of Cement and

(ii) Related business activities

7. To borrow money for the benefit of the Company's business from any person, firm,company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere,save in so for as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Misan International Co., Ltd.<br><br>Gongdeok BD 1244, 11,<br>Saechang-ro, Mapo-gu,<br>Seoul, Korea<br><u>Represented by:</u><br>Mr. Kim. Jihoon<br>902-906, 80, Ilsanseo-gu,<br>Goyang-si, Gyeonggi-do, Korea | Incorporated in Korea<br>Reg No.<br>110111-4585323<br><br>Korean<br>P.P.No.<br>M74458002 | 8,400,000 shares | |
| 2 | Zaykabar Co., Ltd.<br>No. (1), Mingalardon Garden City,<br>No. (3) Highway Road,<br>Mingalardon Township, Yangon.<br><u>Represented by:</u><br>Dr. Khin Shwe<br>77-F, University Avenue Road,<br>Bahan Township, Yangon | Incorporated in Myanmar<br>Reg No.<br>268/1990-1991<br><br>Myanmar<br>12/Ba Ha Na (N)<br>055373 | 1,800,000 shares | |
| 3 | Myanmar Might Industrial Co., Ltd.<br>No. (163), Kha Yae Avenue,<br>Mingalardon Garden City,<br>Mingalardon Township, Yangon<br><u>Represented by:</u><br>U Toe Naing Mann<br>No.(B-2), Palm Court Villa,<br>Minghamma Road,<br>Mayangone Township,<br>Yangon | Myanmar<br>Reg No.<br>1339/2008-2009<br><br>Myanmar<br>7/Tha Ka Na (N)<br>078843 | 1,800,000 shares | |

Yangon Dated the day of

*It is hereby certified that the persons mentioned above put their signatures in my presence.*

THE MYANMAR COMPANIES ACT

## PRIVATE COMPANY LIMITED BY SHARES

# Articles of Association

## OF

## MYANMAR-KOREA CEMENT GROUP COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulation which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

### PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   (a) *The number of members of the Company, exclusive of persons who are in the employment the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

### CAPITAL AND SHARES

3. The authorised capital of the Company is ~~Ks~~ US$ 100,000,000/- (~~Kyats~~ United States Dollars One Hundred Millions Only) divided into ( 20,000,000 ) shares of ~~Ks~~ US$ 5/- (~~Kyats~~ United States Dollars Five Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and more than ( 10 ).

The First Directors shall be: -

(1) Mr.KIM JIHOON
(2) Mr. Kim Kwang Chull
(3) Mr.Weon SEON HEE
(4) Ms.Kim Min Kyoung
(5) U Lwin Aung Moe
(6) Mr.Lee Jae Yoon
(7) Mr.Song Jin Wook
(8) Dr.Khin Shwe
(9) U Zay Thiha
(10) U Toe Naing Mann

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (-) shares in the Company in his or her own name and it shall be his duty to comply with the provision of Section ( 85 ) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2)* *all sales and purchases of goods by the Company;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose name, nationalities, addresses and description are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Misan International Co., Ltd.<br>Gongdeok BD 1244, 11,<br>Saechang-ro, Mapo-gu,<br>Seoul, Korea<br><u>Represented by:</u><br>Mr. Kim, Jihoon<br>902-906, 80, Ilsanseo-gu,<br>Goyang-si, Gyeonggi-do, Korea | Incorporated in Korea<br>Reg No.<br>110111-4585323<br><br>Korean<br>P.P.No.<br>M74458002 | 8,400,000 shares | |
| 2 | Zaykabar Co., Ltd.<br>No. (1), Mingalardon Garden City,<br>No. (3) Highway Road,<br>Mingalardon Township, Yangon.<br><u>Represented by:</u><br>Dr. Khin Shwe<br>77-F, University Avenue Road,<br>Bahan Township, Yangon | Incorporated in Myanmar<br>Reg No.<br>268/1990-1991<br><br>Myanmar<br>12/Ba Ha Na (N)<br>055373 | 1,800,000 shares | |
| 3 | Myanmar Might Industrial Co., Ltd.<br>No. (163), Kha Yae Avenue,<br>Mingalardon Garden City,<br>Mingalardon Township, Yangon<br><u>Represented by:</u><br>U Toe Naing Mann<br>No.(B-2), Palm Court Villa,<br>Minghamma Road,<br>Mayangone Township,<br>Yangon | Incorporated in Myanmar<br>Reg No.<br>1339/2008-2009<br><br>Myanmar<br>7/Tha Ka Na (N)<br>078843 | 1,800,000 shares | |

Yangon Dated the day of

*It is hereby certified that the persons mentioned above put their signatures in my presence.*